ကန့်သတ်

**ကုမ္ပဏီအမည်** - Myanmar Japan Rice Industry Company Limited

**လုပ်ငန်း** - **ဆန်နှင့် ဆန်ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၃-၁၂-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၃-၁-၂၀၁၅ | ၂-၂-၂၀၁၅ | |
| | (ခ) စက်မှုဝန်ကြီးဌာန | ၂၂-၁-၂၀၁၅ | ၅-၂-၂၀၁၅ | |
| | (ဂ) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန | ၂၂-၁-၂၀၁၅ | ၉-၂-၂၀၁၅ | |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၂-၁-၂၀၁၅ | ၁၀-၂-၂၀၁၅ | |
| | (င) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၁-၂၀၁၅<br>၁၁-၂-၂၀၁၅<br>၂၄-၂-၂၀၁၅ | ၅-၃-၂၀၁၅ | |
| | (စ) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | ၂၂-၁-၂၀၁၅<br>၁၁-၂-၂၀၁၅<br>၂၄-၂-၂၀၁၅ | ၉-၃-၂၀၁၅ | |
| | (ဆ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂၂-၁-၂၀၁၅ | ၁၃-၃-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၅၁/၂၀၁၄) သို့ တင်ပြခြင်း | ၂၉-၁၂-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁-၁-၂၀၁၅ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင် အစည်းအဝေး (၁/၂၀၁၅) သို့ တင်ပြခြင်း<br>(ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး (၄/၂၀၁၅) သို့ တင်ပြခြင်း<br>(ဂ) ပြည်ထောင်စုအစိုးအဖွဲ့သို့ တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | ၁၁-၃-၂၀၁၅ | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | **(၇၈) ရက်** | | |

ကန့်သတ်

J:\Myanmar Japan rice (MIC -Memo).doc

| | |
|---|---|
| ကုမ္ပဏီအမည် | - Myanmar Japan Rice Industry Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဆန်နှင့် ဆန်ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို(မ) ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၂၂-င)၊ ကန်ပတ်ရိုးကွင်း၊ ဦးပိုင်အမှတ် (၁/၄) ရှိ မြေဧရိယာ (၂၇.၄၉)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၆၀.၀၀ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၅ နှစ် ၉ လ |
| IRR | - ၁၁.၃၈% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၉၈၀.၀၀ | - |
| ၄ | ဝင်ငွေခွန် | ၁၀၄၃၀.၀၀ | ၁၉၁၇၀.၀၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၇၅၇.၈၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၇၃၀၇၃.၄၀ |
| ၉ | မြေငှားရမ်းခ | | ၁၂.၇၃ |

| | | | |
|---|---|---|---|
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၅၀ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၁ | စုစုပေါင်း | ၁၃၄၁၁.၆၈ | ၉၃၀၁၅.၁၀ |
| ၁၂ | Cost : Benefit | ၁ : ၇ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Japan Rice Industry Company Limited တည်ထောင်၍ ဆန်နှင့် ဆန်ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြ လာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - Myanmar Japan Rice Industry Company Limited<br>- ဦးရဲမင်းအောင် (မြန်မာနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Myanmar Agribusiness Public Corporation (MAPCO) Limited (Myanmar) ၅၁%<br>- Mitsui & Company Limited (Japan) ၄၉% |
| | လုပ်ငန်းအမျိုးအစား | - ဆန်နှင့် ဆန်ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို(မ) ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၂၂-င)၊ ကန်ပတ်ရိုးကွင်း၊၊ ဦးပိုင်အမှတ်(၁/၄) |
| | မြေပိုင်ရှင် | - Myanmar Agribusiness Public Corporation (MAPCO) Limited |
| | မြေအကျယ်အဝန်း | - မြေဧရိယာ(၂၇.၄၉)ဧက (၁၁၁၂၄၈.၁၈ စတုရန်းမီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခနှုန်း US$ ၅၀၀၀၀<br>(တစ်စတုရန်းမီတာလျှင် US$ ၀.၄၅ နှုန်း) |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - US$ ၆၀.၀၀ သန်း<br>US $ (သန်း) |
| | | ပြည်ပ (US$) / ပြည်တွင်း (US$) / စုစုပေါင်း |
| | ငွေသား | ၀.၁၅ / ၀.၁၆ / ၀.၃၁ |
| | စက်ပစ္စည်းများ | ၁၄.၅၅ / ၁၅.၁၄ / ၂၉.၆၉ |
| | အဆောက်အဦ | ၁၄.၆၈ / ၁၅.၂၈ / ၂၉.၉၆ |
| | ပရိဘောဂ | ၀.၀၂ / ၀.၀၂ / ၀.၀၄ |
| | **စုစုပေါင်း** | **၂၉.၄၀ / ၃၀.၆၀ / ၆၀.၀၀** |
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကိုတင်ပြထားပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - **၅၆ ဦး** |
| | ပြည်တွင်း | - ၅၀ ဦး |
| | ပြည်ပ | - ၆ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၁၀၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁,၀၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၇၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၄၀% နှင့် ပြည်ပ ၆၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US $ ၄၀.၅၆ သန်း |
| | အသုံးစရိတ် | - US $ ၃၂.၃၄ သန်း |
| | အသားတင်အမြတ် | - US $ ၈.၂၂ သန်း |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆငွမပြောက်နှစ်) | |
| | ဝင်ငွေခွန် | - US $ ၂.၇၄ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၉ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၁.၄၂ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆင္ဓမပြောက်နှစ်) | - ၂၅၀,၀၀၀ Unit |
| ၁၂။ | နှစ်စဉ်ထုတ်လုပ်မှု(ဆင္ဓမပြောက်နှစ်) | |

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (မက်ထရစ်တန်) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်/ MT) | ပြည်ပ (US$/ MT) |
| White Rice Standard | - | ၅၁၈၄၀ | | ၄၉၀ |
| Broken Rice | ၃၄၅၆၀ | - | ၃၉၇၀၀၀ | - |
| Bran | ၉၆၀၀ | - | ၁၅၀၀၀၀ | - |

| | | |
|---|---|---|
| ၁၃။ | **စိစစ်တွေ့ရှိချက်** | - ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့ မှ ရန်ကုန်တိုင်းဒေသကြီး လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ အဆိုပါ မြေနှင့် စပ်လျဉ်း၍ လုပ်ငန်းများအား ကြိုတင် ဆောင်ရွက်နိုင်ပါကြောင်း အကြောင်းကြားသည့်စာအား ကုမ္ပဏီမှ တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ရန် တင်ပြထားသည့် လယ်ယာမြေ (၂၇.၄၉)ဧက အား ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်(ပုံစံ-၁၅)ကို (၁၉-၂-၂၀၁၅) ရက်စွဲပါ စာဖြင့် ပူးတွဲ တင်ပြထားပါသည်။<br>- ပို့ဆောင်ရေး ဝန်ကြီးဌာန ၏ (၂၁-၁၁-၂၀၁၄)ရက်စွဲပါ စာဖြင့် ဆိပ်ခံတံတား တည်ဆောက်ခွင့်ပြုသည့် စာအား ကုမ္ပဏီမှ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ချေးငွေအား ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး လုပ်ငန်းဆောင်ရွက်ချိန်တွင် ရယူမည်ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ န-၁၁၄ /၂၀၁၅ ( ၂၁၄ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Japan Rice Industry Company Limited တည်ထောင်၍ ဆန်နှင့် ဆန်ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြ လာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Myanmar Agribusiness Public Corporation (MAPCO) Limited မှ (၅၁%) နှင့် ဂျပန်နိုင်ငံ Mitsui & Company Limited မှ (၄၉%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar Japan Rice Industry Company Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေး မြို့နယ်၊ ဘုရားငုတ္တို(မ)ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၂၂-င)၊ ကန်ပတ်ရိုးကွင်း၊ ဦးပိုင်အမှတ် (၁/၄)ရှိ မြေဧရိယာ (၂၇.၄၉)ဧကကို ငှားရမ်း၍ ဆန်နှင့် ဆန်ထွက် ပစ္စည်းများ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Myanmar Agribusiness Public Corporation (MAPCO) Limited နှင့် Myanmar Japan Rice Industry Company Limited တို့ကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ မြန်မာနိုင်ငံမှ Myanmar Agribusiness Public Corporation (MAPCO) Limited နှင့် ဂျပန်နိုင်ငံ မှ Mitsui & Company Limited တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) နှင့် Shareholders Agreement ၊ မြေ အထောက်အထားများ၊ အဆောက်အဦဓာတ်ပုံ စသည်တို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့်နေရာသည် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေး မြို့နယ် မြေ(၂၇.၄၉)ဧက (၁၁၁၂၄၈.၁၈ စတုရန်းမီတာ)ဖြစ်ပြီး တစ်စတုရန်းမီတာလျှင် US$ ၀.၄၅ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခမှာ US$ ၅၀၀၀၀.၀၀ သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၂၄ လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | **ပြည်ပ (၄၉%)** | **ပြည်တွင်း(၅၁%)** | **စုစုပေါင်း** |
|---|---|---|---|
| | **(US$ သန်း)** | **(US$ သန်း)** | **US$ (သန်း)** |
| ငွေသား | ၀.၁၅ | ၀.၁၆ | ၀.၃၁ |
| စက်ပစ္စည်းများ | ၁၄.၅၅ | ၁၅.၁၄ | ၂၉.၆၉ |
| အဆောက်အဦ | ၁၄.၆၈ | ၁၅.၂၈ | ၂၉.၉၆ |
| ပရိဘောဂ | ၀.၀၂ | ၀.၀၂ | ၀.၀၄ |
| **စုစုပေါင်း** | **၂၉.၄၀** | **၃၀.၆၀** | **၆၀.၀၀** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရာတွင် ပြည်တွင်း ဝန်ထမ်း(၅၀)ဦး နှင့် ပြည်ပ (၆) ဦး စုစုပေါင်း (၅၆)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၁၀၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁,၀၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၇၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ဆန်နှင့် ဆန်ထွက်ပစ္စည်းများကို ပြည်တွင်းတွင် ၄၀% နှင့် ပြည်ပသို့ ၆၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမှု ဈေးနှုန်း မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ပစ္စည်း အမျိုးအစား** | **ထုတ်လုပ်မှု အရေအတွက် (မက်ထရစ်တန်)** | | **ရောင်းဈေးနှုန်း** | |
|---|---|---|---|---|
| | **ပြည်တွင်း** | **ပြည်ပ** | **ပြည်တွင်း (ကျပ်/ MT)** | **ပြည်ပ (US$/ MT)** |
| White Rice Standard | - | ၅၁၈၄၀ | | ၄၉၀ |
| Broken Rice | ၃၄၅၆၀ | - | ၃၉၇၀၀၀ | - |
| Bran | ၉၆၀၀ | - | ၁၅၀၀၀၀ | - |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | **US $ (သန်း)** |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၄၀.၅၆ |
| (ခ) | အသုံးစရိတ် | - | ၃၂.၃၄ |
| (ဂ) | အသားတင်အမြတ် | - | ၈.၂၂ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၂.၇၄ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ၉ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) မှာ ၁၁.၄၂% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း၊ ပြည်တွင်းလုပ်သားအင်အား ရုံးဝန်ထမ်း ၅၆ ဦး နှင့် အလုပ်သမား ၁၀၀ ဦးတို့ အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို(မ) ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၂၂-င)၊ ကန်ပတ်ရိုးကွင်း၊ ဦးပိုင်အမှတ်(၁/၄)ရှိ မြေဧရိယာ (၂၇.၄၉)ဧကအား US$ 0.449446 per square meter per year (USD 50000 per year)နှုန်းဖြင့် ကနဦးနှစ် ၃၀ (၂၀၁၄ ခုနှစ်မှ ၂၀၄၄ ခုနှစ်အထိ)၊ တိုးမြှင့်ကာလ ၁၀နှစ် ၂ ကြိမ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ လုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း နှင့် ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဥ်း၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာ ပါသည်-

(၁) လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်း လည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်း ဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် အစီအစဉ်များ ရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊

(၂) စပါးကြိတ်ခွဲခြင်း၊ ပြုတ်ဆန်ထုတ်လုပ်ခြင်းကြောင့် စက်ရုံမှ ထွက်ရှိလာ မည့် စွန့်ပစ်အရည်များ၊ အခိုးအငွေ့များ၊ အနံ့အသက်များ၊ အမှုန်များအား သတ်မှတ် စံချိန်စံညွှန်းနှင့်အညီ စွန့်ပစ်နိုင်ရေးအတွက် အဆင့်မြင့်နည်း ပညာ နှင့် ကိရိယာများ အသုံးပြုဆောင်ရွက်ရန်၊

(၃) လုပ်ငန်းခွင် လေကောင်းလေသန့် ရရှိရေး၊ ပတ်ဝန်းကျင်သန့်ရှင်း ကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်ကို စီမံထားရှိရန်၊ စက်ရုံမှ စွန့်ပစ်ရေများကို စွန့်ပစ်ရာတွင် သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ စွန့်ပစ်ရန်၊

(၄) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) လုပ်ငန်း ဆောင်ရွက်ရန်နှင့် ယင်းလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်၊

(၅) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊နည်းဥပဒေနှင့် စံသတ်မှတ်ချက် များ၊ EIA နှင့် EMP တို့တွင် ဖော်ပြပါရှိသည့် အချက်များအား လိုက်နာ

မည်ဖြစ်ကြောင်း စီမံကိန်းအဆိုပြုသူ၏ ကတိခံဝန်ချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်း ဖော်ပြရန်၊

(၆) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် စီမံကိန်းဧရိယာအနီး ဒေသခံပြည်သူများ၏ သဘောထားရယူဆောင်ရွက်ရန်၊

(၇) ဝန်ကြီးဌာနအသီးသီးမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း နှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရန်၊ **(နောက်ဆက်တွဲ-ခ)**

**[ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များကို Myanmar Sustainable Development Engineering Services Co., Ltd သို့ အပ်နှံကာ စနစ်တကျ စီစဉ်ရေးဆွဲလျက်ရှိကြောင်း နှင့် Final Report ပြီးစီးသည့်အချိန်တွင် ဆက်လက် တင်ပြသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။]**

(ဂ) **စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ** မြန်မာနိုင်ငံတွင်လိုအပ်ချက်တစ်ခုဖြစ်သည့် စိုက်ပျိုးရေး ထုတ်ကုန်များ အရည်အသွေးမီ တန်ဘိုးမြင့်ဖြစ်စေရေးနှင့် နိုင်ငံခြားဝင်ငွေ ရရှိရေးအတွက် အထောက်အကူကောင်းများ ရရှိစေမည့် လုပ်ငန်းဖြစ်ခြင်း၊ ပြည်ပသို့ တင်ပို့မည့် ဆန်အတွက် Value-Added လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်း၊ ဒေသခံများ အလုပ်အကိုင် အခွင့်အလမ်း ရရှိစေခြင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လိုအပ်နေသော စိုက်ပျိုးရေးအခြေခံ လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာပြီး နိုင်ငံခြား ဝင်ငွေ ရရှိစေမည့် လုပ်ငန်းဖြစ်ခြင်း၊ နိုင်ငံသား လုပ်ငန်းရှင်များ ရင်းနှီးမြှုပ်နှံမှု နှင့် နည်းပညာများ ဖွံ့ဖြိုးတိုးတက်လာစေရန် အားပေးချီးမြှင့်သင့်သည့် လုပ်ငန်း ဖြစ်ခြင်းတို့ကြောင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ညီညွတ်ပါက ခွင့်ပြုပေး သင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - ဂ)**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု နှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်း

ရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်၊ ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန်၊ တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါကကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဃ)**

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း နှင့် ဆောင်ရွက်ထားရှိမှုကို ဆက်လက် တင်ပြသွားမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။]**

(င) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါကြောင်းနှင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-င)**

(စ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ** အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(၁) MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းတွင် တည်ဆောက်မည့် စက်ရုံတည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန် စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း၊

(၂) အဆောက်အဦပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါ သည်-

| **စဉ်** | **ပစ္စည်း အမျိုးအမည်** | **MIC စာအုပ်ပါ အရေအတွက် (Ton)** | **BQ တွင် ပါဝင်သော အရေအတွက် (Ton)** | **ထောက်ခံ တင်ပြသော အရေအတွက် (Ton)** |
|---|---|---|---|---|
| (က) | ဘိလပ်မြေ | ၃၅၀၀၀ | ၅၆၁၃ | ၅၆၁၃ |
| (ခ) | သံချောင်းလုံး ရှယ်စုံ | ၁၁၀၀၀ | ၁၀၈၉ | ၁၀၈၉ |
| (ဂ) | သံနှင့်သံထည် ပစ္စည်း | ၁၁၇၈၀ | ၂၀၈၀ | ၂၀၈၀ |

(၃) စီမံကိန်းစိစစ်ရာတွင် တင်ပြသော ပုံစံဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှု ရှိမည်ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါကြောင်း၊ Detail Estimatc ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၄) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာဆောင်ရွက်မည် ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-စ)**

**[ကုမ္ပဏီမှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်အရ ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးသုံးပစ္စည်းများနှင့် အရေအတွက်ကို ၂၀၁၅ ခုနှစ် မတ်လ ၁၇ ရက်စွဲဖြင့် ပြင်ဆင် တင်ပြထားပါသည်။]**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံမှ MAPCO (Myanmar Agribusiness Public Corporation Limited) အမည်ဖြင့် Myanma Apex Bank ရှိ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၅ ရက်နေ့ ငွေလက်ကျန် USD ၄၁၅.၄၇ သန်း၊ MAPCO Overseas PTE Ltd. အမည်ဖြင့် United Overseas Bank ရှိ ၂၀၁၄ ခုနှစ် ဧပြီလ ၈ ရက်နေ့ ငွေလက်ကျန် USD ၂.၁၅ သန်း နှင့် ဂျပန်နိုင်ငံ Mitsui & Co., Ltd. အမည်ဖြင့် SMBC ဘဏ်ရှိ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၆ ရက်နေ့ ငွေလက်ကျန် Yen ၄၂၂၁၆၁ သန်း၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများ နှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Myanmar Japan Rice Industry Company Limited မှ တည်နေရာပြမြေပုံ၊ လုပ်ငန်း သဘောသဘာဝ ရှင်းလင်းချက်၊ ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၉ ရက်နေ့တွင် ကျင်းပသော ၅၁/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) ဇပဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့ မှ ရန်ကုန်တိုင်းဒေသကြီး လယ်ယာမြေ စီမံခန့်ခွဲမှု အဖွဲ့သို့ အဆိုပါ မြေနှင့် စပ်လျဉ်း၍ လုပ်ငန်းများအား ကြိုတင်ဆောင်ရွက်နိုင်ပါကြောင်း အကြောင်းကြားသည့်စာ၊ လယ်ယာမြေ (၂၇.၄၉)ဧကအား ဇပဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်(ပုံစံ-၁၅)၊ ပို့ဆောင်ရေးဝန်ကြီးဌာန၏ ဆိပ်ခံတံတား တည်ဆောက်ခွင့်ပြုသည့်စာများအား ကုမ္ပဏီမှ တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ချေးငွေအား ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး လုပ်ငန်းဆောင်ရွက်ချိန်တွင် ရယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ကော်မရှင်၏ ၁/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး နှင့် စီးပွားရေးရာကော်မတီ၏ ၄/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြထားပါသည်။ ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Japan Rice Industry Company Limited တည်ထောင်၍ ဆန်နှင့် ဆန်ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar Japan Rice Industry Company Limited | Myanmar Agribusiness Public Corporation (MAPCO) Limited<br>Represented by: | |
| | | (၁) U Chit Khine<br>Chairman<br>Myanmar<br>12/Ah Sa Na (Naing)078263 | No. (100/F), Inya Road, (9)ward, Kanayut Township, Yangon. |
| | | (၂) U Ye Min Aung<br>Managing Director<br>Myanmar<br>12/Ta Ma Na (Naing)094582 | No. (17), Mya Khwar Nyo 1st Street, 7/West Ward, Tharketa Township, Yangon. |
| | | (၃) U Tin Maung Hlaing<br>Director<br>Myanmar<br>12/Sa Kha Na(Naing)057982 | No. (7/2), Saw Mahar Street, Bo Cho Ward No.(2), Bahan Township, Yangon. |
| | | Mitsui & Co., Ltd.<br>Represented by: | |
| | | (၄) Mr.Minoru Asano<br>Director<br>Japanese<br>TZ 0594730 | Minamlaoyama 4-2-12-808, Minato-Ku, Tokyo, Japan, Postal Code: 107-0062 |
| | | (၅) Mr.Noboru Nagasawa<br>Director<br>Japanese<br>TZ 0783911 | Hikarigaoka 6-1-2-102, Nerima-Ku, Tokyo, Japan, |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉-၅၀၅၈၀၀၁ ၊ ၅၀၉၃၃၆၂ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်(၁၇)၊ မြခွာညို(၁)လမ်း၊ (၇)ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးရဲမင်းအောင် မန်းနေဂျင်းဒါရိုက်တာ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ဆန်နှင့် ဆန်ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

**နောက်ဆက်တွဲ(က)**

စာအမှတ်၊ ၃ / ၆ - ၃ (၄၂) / စိုက်မွေး
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂. ၁. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န - ၁၁၄ / ၂၀၁၅ (၀၃၇)

၁။ မြန်မာနိုင်ငံ Myanmar Agribusiness Public Corporation (MAPCO) Limited မှ (၅၁%)နှင့် ဂျပန်နိုင်ငံ Mitsui & Company Limited မှ (၄၉%) အစုရှယ်ယာများထည့်ဝင်ကာ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Japan Rice Industry Company Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို(မ)ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၂၂-င)၊ ကန်ပတ်ရိုးကွင်း၊ ဦးပိုင်အမှတ် (၁/၄)ရှိ မြေဧရိယာ (၂၇. ၄၉)ဧကကို ငှားရမ်း၍ ဆန်နှင့်ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား ရုံးဝန်ထမ်း ၅၆ ဦးနှင့် အလုပ်သမား ၁၀၀ဦးတို့ အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို(မ) ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၂၂-င)၊ ကန်ပတ်ရိုးကွင်း၊ ဦးပိုင်အမှတ် (၁/၄)ရှိ မြေဧရိယာ (၂၇. ၄၉)ဧကအား USD 0.449446 per square meter per year( USD 50000 per year) နှုန်းဖြင့် ကနဦးနှစ်(၃၀)(၂၀၁၄ ခုနှစ်မှ ၂၀၄၄ ခုနှစ်အထိ)၊ တိုးမြှင့်ကာလ ၁၀ နှစ် (၂)ကြိမ် ငှားရမ်းလုပ်ကိုင်ခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/11.,(6)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၆. ၂. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၇၄)အရ Myanmar Japan Rice Industry Company Limited ၏ ဆန်နှင့်ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးတိုင်းရင်းသားရေးရာဝန်ကြီး(ကရင်)
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
တွံတေးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Japan Rice Industry Company Limited
လက်ခံစာတွဲ
မျှောစာတွဲ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NM-0934
9.2.2015

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၉၉၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဖေဖော်ဝါရီလ ၆ ရက်

MIC 14
10/2

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **<u>သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ</u>**

ရည် ညွှန်း ချက် ။ (၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၁၄ /၂၀၁၅(၀၃၈)

(၂)ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ ၉-၁၂ -၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁၂/လယ-၃၀ (၂၄၁/၂၀၁၄)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ Myanmar Agribusiness Public Corporation (MAPCO) Limited. မှ(၅၁ %) နှင့် ဂျပန်နိုင်ငံ Mitsui & Company Limitedမှ (၄၉%)အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Japan Rice Industry Company Limited ထည်ထောင်ကာ၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို (မ) ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၂၂-င)၊ ကန်ပတ်ရိုးကွင်း ၊ ဦးပိုင်အမှတ်(၁/၄)ရှိ မြေဧရိယာ (၂၇.၄၉)ဧကကို ငှားရမ်း၍ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထား မှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာ၌ စီမံကိန်းပထမအဆင့်တွင် ဆန်ထုတ်လုပ် ရောင်းချခြင်းနှင့် ဇီဝလောင်စာသုံးလျှပ်စစ်ဓာတ်အားပေးစက်ရုံအပါအဝင် စီမံကိန်းဆိုင်ရာအဆောက်အဦများ တည်ဆောက်ခြင်းနှင့် စီမံကိန်းဒုတိယအဆင့်တွင် ပထမအဆင့်၏ လုပ်ငန်းဆောင်ရွက်နိုင်မှုများ အပေါ်အခြေခံ၍ ဆန်နှင့်ဆန်ထွက်ပစ္စည်းများထုတ်လုပ်ခြင်း၊ ဖွဲနုစားဆီထုတ်လုပ်ခြင်း၊ ပြည်တွင်း ပြည်ပသို့တင်ပို့ရောင်းချခြင်း၊ စိုက်ပျိုးရေးဆိုင်ရာပစ္စည်းများထုတ်လုပ်ခြင်း စသည့် လုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာသန်း(၆၀)ဖြစ်ပြီးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ်(၃၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေး ကာလမှာ(၂)နှစ်ကြာမြင့်မည်ဖြစ်ကြောင်း၊ တစ်နှစ်လျှင် တန်ချိန် (၁၂၀၀၀၀) ထုတ်လုပ်မည်ဖြစ်ပြီး ယခုအချိန်အထိ မြန်မာနိုင်ငံတွင် ဆန်စပါး နှင့် ပတ်သက်၍ အများဆုံး

ထုတ်လုပ်မည့် ကုမ္ပဏီဖြစ်ပါကြောင်း၊ ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ လယ်မြေအား အခြားနည်းဖြင့်အသုံးပြုခွင့် လျှောက်ထားသည့်လုပ်ငန်းအား ကြိုတင်ဆောင်ရွက်ခွင့်ပြုနိုင်ပါကြောင်း အကြောင်းကြားစာ (ရည်ညွှန်း-၂) ၊ ဝန်ထမ်းသက်သာချောင်ချိရေး နှင့် သာယာပျော်ရွှင်ရေး အစီအမံများ၊ မီးဘေးကာကွယ်ရေးအစီအမံများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ လုပ်ငန်းများအနေဖြင့် ရေဆိုးသန့်စင်စက်ရုံ (Waste water Treatment Plant) ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းမှ ရရှိလာသော အကျိုးအမြတ်၏ (၂%) ကို လူမှုရေးနှင့်အခြားသော အကျိုးပြုလုပ်ငန်းများတွင် အသုံးပြုမည်ဖြစ်ကြောင်း နှင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာကို Myanmar Sustainable Development Engineering Services Co., Ltd. (MSDES) ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပါ လုပ်ငန်းဆောင်ရွက်ရာတွင် စက်ရုံတည်ဆောက်ခြင်းနှင့် လည်ပတ်ခြင်းကြောင့် ထွက်ရှိလာမည့် စပါးခွံများ၊ ဖွဲမှုန့်များ၊ စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်ရေများကြောင့် စက်ရုံပတ်ဝန်းကျင်တွင် လေထု၊ မြေထုနှင့်ရေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ပါသည်။ ထို့အပြင် ပေါင်းဆန်ပြုလုပ်ရာတွင် စပါးအား ရေနွေးရေ (၆၅ ဒီဂရီစင်တီဂရိတ်) ဖြင့် စိမ်ရမည်ဖြစ်သဖြင့် ပြန်လည်စွန့်ပစ်သော စွန့်ပစ်ရည်အား မြစ်၊ ချောင်းများအတွင်းသို့ တိုက်ရိုက်စွန့်ပစ်မည် ဆိုပါက ရေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ပြီး ရေနေသတ္တဝါများနှင့် ပတ်ဝန်းကျင်ရှိအပင်များကို သေကြေပျက်စီးစေနိုင်ပါသည်။ စွန့်ပစ်အရည်၏ အနံ့အသက်များကြောင့်လည်း အနီးပတ်ဝန်းကျင် လူထုအား ကျန်းမာရေးထိခိုက်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Agribusiness Public Corporation (MAPCO) Limited. မှ(၅၁ %) နှင့် ဂျပန်နိုင်ငံ Mitsui & Company Limitedမှ (၄၉%)အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Japan Rice Industry Company Limited ထည်ထောင်ကာ၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို (မ) ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၂၂-င)၊ ကန်ပတ်ရိုးကွင်း ၊ ဦးပိုင်အမှတ်(၁/၄)ရှိ မြေဧရိယာ (၂၇.၄၉)ဧကကို ငှားရမ်း၍ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလွှာပါလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊

(ခ) စပါးကြိတ်ခွဲခြင်း၊ ပြုတ်ဆန်ထုတ်လုပ်ခြင်းကြောင့် စက်ရုံမှထွက်ရှိလာမည့် စွန့်ပစ်အရည်များ၊ အခိုးအငွေ့များ၊ အနံ့အသက်များ၊ အမှုန်များအား သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ စွန့်ပစ်နိုင်ရေးအတွက် အဆင့်မြင့်နည်းပညာ နှင့် ကိရိယာများအသုံးပြုဆောင်ရွက်ရန်၊

(ဂ) လုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး၊ ပတ်ဝန်းကျင်သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့်ရေစီးရေလာစနစ်ကို စီမံထားရှိရန်၊ စက်ရုံမှစွန့်ပစ်ရေများကို စွန့်ပစ်ရာတွင် သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ စွန့်ပစ်ရန်၊

(ဃ) ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) လုပ်ငန်းဆောင်ရွက်ရန်၊

(င) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ် ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်၊

(စ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့် စံသတ်မှတ်ချက်များ၊ EIA နှင့် EMP တို့တွင် ဖော်ပြပါရှိသည့် အချက်များအား လိုက်နာမည်ဖြစ်ကြောင်း စီမံကိန်းအဆိုပြုသူ၏ကတိခံဝန်ချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊

(ဆ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် စီမံကိန်းဧရိယာအနီး ဒေသခံပြည်သူများ၏ သဘောထားရယူဆောင်ရွက်ရန်၊

နောက်ဆက်တွဲ(ဂ)



NPT.0886
6.2.2015

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ စက- ၁၄/၁(၃)- ၃၀ /၂၀၁၅( ၂၂ )
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၅ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၂ - ၁ - ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၄/ ၂၀၁၅ (၀၃၉)

Myanmar Japan Rice Industry Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး ၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို(မ)ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၂၂-C)၊ ကန်ပတ်ရိုးကွင်း၊ ဦးပိုင်အမှတ် (၁/၄) ရှိ မြေဧရိယာ (၂၇.၄၉)ဧကကို ငှားရမ်း၍ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတွင် လိုအပ်ချက်တစ်ခုဖြစ်သည့် စိုက်ပျိုးရေးထုတ်ကုန်များ အရည်အသွေးမီ တန်ဘိုးမြင့်ဖြစ်စေရေးနှင့် နိုင်ငံခြားဝင်ငွေ ရရှိရေးအတွက် အထောက်အကူကောင်းများ ရရှိစေမည့် လုပ်ငန်းဖြစ်ခြင်း၊ ပြည်ပသို့တင်ပို့မည့် ဆန်အတွက် Value-Added လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်း၊ ဒေသခံများ အလုပ်အကိုင် အခွင့်အလမ်းရရှိစေခြင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လိုအပ်နေသော စိုက်ပျိုးရေးအခြေခံ လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာပြီး နိုင်ငံခြားဝင်ငွေ ရရှိစေမည့် လုပ်ငန်းဖြစ်ခြင်း၊ နိုင်ငံသား လုပ်ငန်းရှင်များ ရင်းနှီးမြှုပ်နှံမှုနှင့် နည်းပညာများ ဖွံ့ဖြိုး တိုးတက်လာစေရန် အားပေးချီးမြှင့်သင့်သည့်လုပ်ငန်းဖြစ်ခြင်းတို့ကြောင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် ညီညွတ်ပါက ခွင့်ပြုပေးသင့်ပါကြောင်း ပြန်ကြား အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( )
( ဦးဟန် ၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန



နောက်ဆက်တွဲ(ဃ)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ (၂) ၂၀၁၄-၂၀၁၅ (၄၉၄၄)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၁၄/ ၂၀၁၅ (၀၄၀)

၁။ Myanmar Japan Rice Industry Co.,Ltd. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ်တို(မ)ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၂၂-င)၊ ကန်ပတ်ရိုးကွင်း၊ ဦးပိုင်အမှတ်(၁/၄)တွင် ဆန်နှင့်ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ဆန်နှင့်ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်း မှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Myanmar Japan Rice Industry Co.,Ltd. မှ ဆန်နှင့်ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ

နှင့် တည်ဆဲဥပဒေလုပ်ထုံး လုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂.၂.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

နောက်ဆက်တွဲ(င)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၁၁ / MAPCO ( ၇၁ / ၂၀၁၅ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပေးပို့ခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရကာ-၂ / န-၁၁၄ / ၂၀၁၅ (၁၀၃)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် မြန်မာနိုင်ငံ Myanmar Agribusiness Public Corporation (MAPCO) Limited မှ (၅၁%)နှင့် ဂျပန်နိုင်ငံ Mitsui & Company Limited မှ (၄၉%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Japan Rice Industry Company Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငှက်သို့ (မ)ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၂၂-ဂ)၊ ကန်ပတ်ရိုးကွင်း၊ ဦးပိုင်အမှတ် (၁/၄)ရှိ မြေဧရိယာ (၂၇.၄၉)ဧကကို ငှားရမ်း၍ ဆန်နှင့်ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စအပေါ် သဘောထားမှတ်ချက်ပေးပို့ရန် ညှိနှိုင်းလာမှုရှိပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( သက်နိုင်ဦး ၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန

နောက်ဆက်တွဲ(စ)



မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ မအသ / MIC / ၁၁၅၆ / ၂၀၁၅။
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ မတ်လ၊ ( ၁၃ ) ရက်။

အကြောင်းအရာ။ ။ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို(မ)ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၂၂-င) တွင် ဆန်နှင့်ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် ကိစ္စ။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ခုနှစ်၊ ဇန်နဝါရီလ(၂၂)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၄/၂၀၁၅ (၀၄၂)

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Myanmar Japan Rice Industry Company Limited မှ ၂၀၁၅ခုနှစ်၊ ဇန်နဝါရီလ(၂၂)ရက်စွဲဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ တွံတေးမြို့နယ်၊ ဘုရားငုတ္တို(မ)ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၂၂-င) တွင် ဆန်နှင့်ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သောပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သောလမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင်ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့်ပတ်သက်၍ (၂၆-၁-၂၀၁၅)ရက်နေ့မှ (၁၁-၃-၂၀၁၅) ရက်နေ့အထိ Foundation အပိုင်း၊ Structure အပိုင်း၊ အဆောက်အဦ အတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းတွင် တည်ဆောက်မည့် စက်ရုံတည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့်စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအပ်ပါ အရေအတွက် (Ton) | BQ တွင်ပါဝင်သော အရေအတွက် (Ton) | ထောက်ခံတင်ပြသော အရေအတွက်(Ton) |
|---|---|---|---|---|
| ၁။ | ဘိလပ်မြေ | ၃၅၀၀၀ | ၅၆၁၃ | ၅၆၁၃ |
| ၂။ | သံချောင်းလုံးရှယ်စုံ | ၁၁၀၀၀ | ၁၁၈၉ | ၁၀၈၉ |
| ၃။ | သံနှင့်သံထည်ပစ္စည်း | ၁၁၁၈၀ | ၂၀၈၀ | ၂၀၈၀ |

မှတ်ချက်။ ။(၁) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာဝန်ကြီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းနိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို – Managing Director, Myanmar Japan Rice Industry Company Limited

– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

– အတွင်းရေးမှူး၊ MIC Projects Assessment Committee

– ရုံးလက်ခံ / မျှောစာတွဲ

